အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Yadanar Theingi Co., Ltd.(ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်)မှ သုံးဘီးမော်တော်ဆိုင်ကယ် နှင့် မော်တော်ဆိုင်ကယ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ။**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - **Yadanar Theingi Co., Ltd. (ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်)** |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးအိုက်ယီ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - **သုံးဘီးမော်တော်ဆိုင်ကယ် နှင့် မော်တော် ဆိုင်ကယ် အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း** |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(ဘီ-၂/အေ-၃)၊ ယာတော်ရပ်ကွက်၊ ပြည်ကြီးတံခွန် မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးအိုက်ယီ |
| | မြေအကျယ်အဝန်း | - ၂.၅ ဧက ( ၁၀၁၁၇.၂၅ စတုရန်းမီတာ) |
| | အဆောက်အဦအရေအတွက် | - (၁၅၀x၁၅၀)ပေ အကျယ်အဝန်းရှိ အဆောက်အဦ ၁လုံး |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၂၄၀ သိန်း |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ | - ၂နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | **ကျပ်၄၉၉၀.၀၀၀ သန်း** |
| | ငွေသား | ကျပ်၂၇၈.၆၀၀သန်း |
| | စက်ပစ္စည်း | ကျပ် ၃၈၆၄.၂၅၀သန်း(ပြည်တွင်းဝယ်) |
| | အဆောက်အဦ | ကျပ် ၈၀၀.၀၀၀သန်း |
| | ရုံးသုံးပရိဘောဂ | ကျပ် ၄၇.၁၅၀သန်း(ပြည်တွင်းဝယ်) |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း(၁၀၀)ရာခိုင်နှုန်း |

| | | |
|---|---|---|
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်း ဈေးနှုန်း(ပထမနှစ်) | (see table below) |

| ထုတ်လုပ်မည့် ဆိုင်ကယ် အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (စီးရေ) | တစ်စီး ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|
| LIFAN 150 ZS-2 (သုံးဘီး) | ၂,၀၀၀ | ၁,၂၀၀,၀၀၀ |
| LIFAN KPR 150-10S | ၁၁,၅၀၀ | ၁,၃၅၀,၀၀၀ |
| LIFAN TP 125-26C | ၁၁,၅၀၀ | ၇၆၀,၀၀၀ |
| SUPER NOVA SN 110 | ၁၁,၅၀၀ | ၆၁၀,၀၀၀ |
| LIFAN JO JO 110-7D | ၁၁,၅၀၀ | ၅၅၀,၀၀၀ |
| LIFAN TB125T-15 | ၁၁,၅၀၀ | ၉၁၀,၀၀၀ |
| LIFAN PK110-26B | ၁၁,၅၀၀ | ၆၂၅,၀၀၀ |
| SUPER NOVA SN 125 | ၁၁,၅၀၀ | ၄၀၀,၀၀၀ |

၉။ ဝန်ထမ်းခန့်ထားမှု

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဦးရေ** | ၁၁၅ဦး | ၂ဦး |

**အမြင့်ဆုံးလစာ** ကျပ်၁,၀၀၀,၀၀၀/-

**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀/- US$၁,၀၀၀

၁၀။ အခြားတင်ပြချက်များ

- မြေအငှားချထားသူ ဦးအိုက်ယီ နှင့် မြေအငှားချထားခြင်း ခံရသူ ရတနာသိဂီ ကုမ္ပဏီ လီမိတက် တို့အကြား ချုပ်ဆို မည့် မြေငှားစာချုပ်(မူကြမ်း) တင်ပြထားပါသည်။ မြေအထောက် အထားအဖြစ် ဦးအိုက်ယီ အမည်ဖြင့် အသုံးပြုခွင့် ရရှိထား သည့် အနှစ်(၃၀)မြေဂရန် မိတ္တူ တင်ပြထားပါသည်။
- လုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများအား ပြည် တွင်းမှ ဝယ်ယူတပ်ဆင် အသုံးပြုမည်ဖြစ်ပါသည်။
- လုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်းများကို တရုတ်နိုင်ငံ မှတင်သွင်း အသုံးပြုမည်ဖြစ်ကြောင်းတင်ပြထားပါသည်။
- ပထမ(၅)နှစ်တာ ကာလတွင် နိုင်ငံခြားမှ မော်တော် ဆိုင်ကယ်အပိုပစ္စည်းများတင်သွင်း၍ ထုတ်လုပ်မည်ဖြစ် ကြောင်း နောက်နှစ်များ တွင် ၉၀% တင်သွင်း ပြီး ၁၀% အပိုပစ္စည်းများ ထုတ်လုပ် တပ်ဆင်မည် ဖြစ်ကြောင်း

| | | |
|---|---|---|
| | | နောက်ပိုင်းတွင် ၅၀% တင်သွင်း၍ ၅၀% အပိုပစ္စည်းများ ထုတ်လုပ် တပ်ဆင် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ထုတ်လုပ်မည့် သုံးဘီးမော်တော်ဆိုင်ကယ် နှင့် ဆိုင်ကယ် ဓါတ်ပုံများကိုပူးတွဲတင်ပြထားပါသည်။<br>- LIFAN၊ SUPER NOVA ကုန်အမှတ်တံဆိပ်များဖြင့် ရောင်းချမည် ဖြစ်ပါသည်။<br>- LIFAN ကုန်အမှတ်တံဆိပ် သုံးစွဲခွင့်အတွက် တရုတ်နိုင်ငံရှိ CHONGQING LIFAN INDUSTRY (GROUP) IMP.&EXP.CO.,LTD. ထံမှ အသုံးပြုခွင့်စာ မိတ္တူ တင်ပြထားပါသည်။<br>- SUPER NOVA ကုန်အမှတ်တံဆိပ်အတွက် စာချုပ်စာတမ်းမှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားသည့် အထောက်အထားတင်ပြထား ပါသည်။<br>- ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက် ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ် နှင့် ကုမ္ပဏီဆိုင်ရာအချက်အလက်များ၊ နိုင်ငံသားစိစစ်ရေး ကဒ် (မိတ္တူ)များ တင်ပြထား ပါသည်။<br>- **CSR အနေဖြင့်**နှစ်စဉ် အမြတ်ငွေ၂% ၏ ၃၀% ကို ပညာရေး၊ ၃၀%ကို ကျန်းမာရေး၊ ၂၀% ကိုဒေသဆိုင်ရာဖွံ့ဖြိုးတိုးတက်ရေး၊၂၀%ကို လူမှုရေးနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းများအတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>- **မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်အနေဖြင့်**အချက်ပေးစနစ်၊ရေလှောင်ကန်များထားရှိမည်ဖြစ်ကြောင်း၊လျှပ်စစ်ဝါယာများအားစစ်ဆေးခြင်း၊မီးသတ်ဆေးဘူးများ ထားရှိခြင်း၊ အရေးပေါ် မီးသတ်သင်တန်း/ မီးဘေးကာကွယ်ရေး နှင့် မီးငြိမ်းသတ်ရေးသင်တန်းများပေးခြင်း၊ မတော် တဆမှု မဖြစ်စေရန်မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ထားခြင်း တို့ စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြထားပါ သည်။<br>- **ပတ်ဝန်းကျင်ထိန်းသိမ်းရေး** အတွက် အရိပ်ရအပင်များ စိုက်ပျိုးခြင်း၊ ရေစီးရေလာကောင်းမွန်စေရေး ရေမြောင်းများ ဖောက်လုပ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုမဖြစ်ပေါ်စေရန် ပတ်ဝန်းကျင် ထိန်းသိမ်းရေးပညာရှင်များ နှင့်တိုင်ပင် အကြံ |

| | | |
|---|---|---|
| | | ညာဏ်ရယူ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ သယံဇာတ နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း စည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး ဆောင်ရွက်သွား မည်ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- **လုပ်ငန်းခွင်သက်သာချောင်ချိရေး**အနေဖြင့် ဝန်ထမ်းအကြို/ အပို့ယာဉ် နှင့် တူညီဝတ်စုံများ၊ ဝန်ထမ်းထမင်းစားဆောင်၊ နားနေဆောင်များ စီစဉ်ပေးမည်ဖြစ်ကြောင်း နှင့် လုပ်ငန်း ကျွမ်းကျင်စေရန် ပြည်ပပညာရှင်များဖြင့် သင်တန်းများ ပေးပြီး လုပ်ငန်းကျွမ်းကျင်မှုအလိုက် အပိုဆုများပေး မည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- အလုပ်သမားခန့်ထားမှုနှင့်စပ်လျဉ်း၍ တည်ဆဲအလုပ်သမား ဥပဒေများနှင့်အညီ ပြည်တွင်းမှ ခေါ်ယူခန့်အပ်သွားမည် ဖြစ်ပြီး ဒေသခံများကို ဦးစားပေး ခေါ်ယူခန့်ထား မည်ဖြစ် ကြောင်း သတင်းစာများတွင် ကြော်ငြာ ခြင်းများ ပြုလုပ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင် မည့် ကဏ္ဍတွင်ပါဝင်ပြီး **ISICCode.3091** တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည်ဖွံ့ဖြိုးမှု ရှိသောဇုန်(၃)တွင် ပါဝင်သည့် အတွက် ဝင်ငွေခွန် ကင်းလွတ် ခွင့်၃နှစ် ခံစားနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- မန္တလေးတိုင်းဒေသကြီး အတွင်း မော်တော်ဆိုင်ကယ် နှင့် သုံးဘီးဆိုင်ကယ်တပ်ဆင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်း(၃)ခု၊ မန္တလေးတိုင်းဒေသ ကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(၁)ခု ၊မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု(၂)ခုထုတ်ပေး ထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ**

စာအမှတ်၊ ၂၂ / ၄၄ / ဝ၃ (မ-၂၁)/ ( ဝ၇၂ /၂ဝ၁၉)
ရက်စွဲ ၂ဝ၁၉ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်။

**မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Yadanar Theingi Co., Ltd. (ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်)မှ သုံးဘီးမော်တော်ဆိုင်ကယ် နှင့် မော်တော်ဆိုင်ကယ် အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်း ချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြခြင်းကိစ္စ။**

၁။ Yadanar Theingi Co., Ltd. (ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်)မှ ဦးပိုင်အမှတ် (ဘီ-၂/အေ-၃)၊ ယာတော်ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး ရှိမြေ၂.၅ ဧက (၁ဝ၁၁၇.၂၅ စတုရန်းမီတာ)အား ငှားရမ်း၍ သုံးဘီးမော်တော်ဆိုင်ကယ် နှင့် မော်တော်ဆိုင်ကယ် အမျိုးမျိုးတပ်ဆင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးအိုက်ယီ နှင့် Yadanar Theingi Co., Ltd. (ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်)တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ဦးအိုက်ယီ အမည်ပေါက် ရရှိထားသည့် နှစ်(၃ဝ) ဂရန် မိတ္တူ၊ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် (မိတ္တူ) နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များ၊ နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ)များ တင်ပြထား ပါသည်။

၃။ တည်ဆောက်ရေး ကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်၄၉၉ဝ.ဝဝ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အသေးစိတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| ငွေသား | - | ကျပ် ၂၇၈.၆ဝဝ သန်း |
| စက်ပစ္စည်း(ပြည်တွင်းဝယ်) | - | ကျပ်၃၈၆၄.၂၅ဝ သန်း |
| အဆောက်အဦ | - | ကျပ် ၈ဝဝ.ဝဝဝ သန်း |
| ရုံးသုံးပရိဘောဂ(ပြည်တွင်းဝယ်) | - | ကျပ် ၄၇.၁၅ဝ သန်း |
| **စုစုပေါင်း** | | **ကျပ် ၄၉၉ဝ.ဝဝ သန်း** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၁၁၅) ဦးနှင့် ပြည်ပဝန်ထမ်း (၂) ဦးခန့် ထားဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀/- နှင့် အမြင့်ဆုံး ကျပ်၁,၀၀၀,၀၀၀/- ဖြစ်ပြီး ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁၀၀၀ ဖြစ်ပါသည်။

၆။ ထုတ်လုပ်သည့် ဆိုင်ကယ်များကို ပြည်တွင်းတွင်ရောင်းချမည်ဖြစ်ပြီး ပထမနှစ်၏ ထုတ်လုပ်မှု နှင့် ရောင်း ဈေးနှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထုတ်လုပ်မည့်ဆိုင်ကယ် အမျိုးအစား | ထုတ်လုပ်မှု အရေအတွက်(စီးရေ) | တစ်စီးရောင်း ဈေးနှုန်း(ကျပ်) |
|---|---|---|
| LIFAN 150 ZS-2 (သုံးဘီး) | ၂,၀၀၀ | ၁,၂၀၀,၀၀၀ |
| LIFAN KPR 150-10S | ၁၁,၅၀၀ | ၁,၃၅၀,၀၀၀ |
| LIFAN TP 125-26C | ၁၁,၅၀၀ | ၇၆၀,၀၀၀ |
| SUPER NOVA SN 110 | ၁၁,၅၀၀ | ၆၁၀,၀၀၀ |
| LIFAN JO JO 110-7D | ၁၁,၅၀၀ | ၅၅၀,၀၀၀ |
| LIFAN TB125T-15 | ၁၁,၅၀၀ | ၉၁၀,၀၀၀ |
| LIFAN PK110-26B | ၁၁,၅၀၀ | ၆၂၅,၀၀၀ |
| SUPER NOVA SN 125 | ၁၁,၅၀၀ | ၄၀၀,၀၀၀ |

၇။ **စိစစ်တင်ပြချက်**

(က) အဆိုပြုမြေပေါ်တွင် (၁၅၀ပေx၁၅၀ပေ) အကျယ်အဝန်းရှိ အဆောက်အဦ ၁လုံး ဆောက်လုပ်မည်ဖြစ်ပါ သည်။

(ခ) **CSR အနေဖြင့်** နှစ်စဉ် အမြတ် ငွေ ၂ %၏ ၃၀ % ကိုပညာရေး၊ ၃၀ %ကို ကျန်းမာရေး၊ ၂၀ %ကို ဒေသဆိုင်ရာ ဖွံ့ဖြိုးတိုးတက်ရေး၊ ၂၀ %ကို လူမှုရေးနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းများ အတွက် အသုံးပြု မည်ဖြစ်ပါကြောင်း တင်ပြ ထားပါသည်။

(ဂ) **မီးဘေးကြိုတင်ကာကွယ်ရေး**အနေဖြင့် အချက် ပေးစနစ်၊ ရေလှောင်ကန်များ ထားရှိမည်ဖြစ်ကြောင်း၊ လျှပ်စစ်ဝါယာများအား စစ်ဆေးခြင်း၊ မီးသတ်ဆေး ဘူး များထားရှိခြင်း၊ အရေးပေါ်မီးသတ်သင်တန်း / မီးဘေးကာကွယ်ရေးနှင့် မီးငြိမ်း သတ်ရေးသင်တန်းများပေးခြင်း၊ မတော်တဆမှုမဖြစ်စေရန် မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားခြင်းတို့ စီမံ ဆောင်ရွက် သွားမည်ဖြစ်ကြောင်း တင်ပြ ထားပါ သည်။

(ဃ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေး** အတွက် အရိပ်ရအပင်များ စိုက်ပျိုးခြင်း၊ ရေစီးရေလာ ကောင်းမွန်စေရေး ရေမြောင်းများ ဖောက်လုပ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှု မဖြစ်ပေါ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ပညာရှင်များ နှင့် တိုင်ပင်အကြံဉာဏ်ရယူ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ သယံဇာတ နှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ လုပ်ထုံး လုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) **လုပ်ငန်းခွင်သက်သာချောင်ချိရေး**အနေဖြင့် ဝန်ထမ်းအကြို/ အပို့ယာဉ် နှင့် တူညီဝတ်စုံများ၊ ဝန်ထမ်းထမင်းစားဆောင်၊ နားနေဆောင်များ စီစဉ် ပေးမည်ဖြစ်ကြောင်း နှင့် လုပ်ငန်းကျွမ်းကျင်စေရန် ပြည်ပပညာရှင်များဖြင့် သင်တန်းများ ပေးပြီး လုပ်ငန်းကျွမ်းကျင်မှုအလိုက် အပိုဆုများပေး မည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(စ) အလုပ်သမားခန့်ထားမှု နှင့်စပ်လျဉ်း၍ တည်ဆဲအလုပ်သမား ဥပဒေများနှင့်အညီ ပြည်တွင်းမှ ခေါ်ယူခန့်အပ်သွားမည်ဖြစ်ပြီး ဒေသခံများကိုဦးစားပေး ခေါ်ယူခန့်ထားမည်ဖြစ်ကြောင်း သတင်းစာများတွင် ကြော်ငြာခြင်းများ ပြုလုပ်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

(ဆ) မြေအသုံးပြုခွင့် လျှောက်ထားလွှာ ပုံစံ(၇-ခ) နှင့် ပတ်ဝန်းကျင်တည်နေရာပြမြေပုံ တင်ပြထားပါသည်။

(ဇ) ထုတ်လုပ်မည့် သုံးဘီးမော်တော်ဆိုင်ကယ် နှင့် မော်တော်ဆိုင်ကယ် ဓါတ်ပုံများကို ပူးတွဲတင်ပြ ထားပါသည်။

(ဈ) LIFAN၊ SUPER NOVA ကုန်အမှတ်တံဆိပ်များဖြင့် ရောင်းချမည် ဖြစ်ပြီး LIFAN ကုန်အမှတ်တံဆိပ် သုံးစွဲခွင့်အတွက် တရုတ်နိုင်ငံရှိ CHONGQING LIFAN INDUSTRY (GROUP) IMP.&EXP.CO.,LTD. ထံမှ အသုံးပြုခွင့် ရရှိထားသည့် ကုန်အမှတ်တံဆိပ် အသုံးပြုခွင့် စာမိတ္တူနှင့် SUPER NOVA ကုန်အမှတ်တံဆိပ် အတွက် စာချုပ်စာတမ်း မှတ်ပုံတင်ရုံး တွင် မှတ်ပုံတင်ထားရှိသည့်အထောက်အထား တင်ပြထား ပါသည်။

(ည) လုပ်ငန်းအတွက် အသုံးပြုမည့် စက်ပစ္စည်းများအား ပြည်တွင်း မှ ဝယ်ယူတပ်ဆင် အသုံးပြုမည်ဖြစ်ပြီး ကုန်ကြမ်းများကို တရုတ်နိုင်ငံမှ တင်သွင်း အသုံးပြုမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

(ဋ) ပထမ(၅)နှစ်တာကာလတွင် နိုင်ငံခြားမှ မော်တော်ဆိုင်ကယ် အပို ပစ္စည်းများ တင်သွင်း၍ ထုတ်လုပ်မည်ဖြစ်ကြောင်း နောက်နှစ်များတွင် ၉၀% တင်သွင်း ပြီး ၁၀% အပိုပစ္စည်းများ ထုတ်လုပ်တပ်ဆင်မည်ဖြစ်ကြောင်း နောက်ပိုင်းတွင် ၅၀%

တင်သွင်း၍ ၅၀%အပိုပစ္စည်းများ ထုတ်လုပ် တပ်ဆင် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဌ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး **ISIC Code.3091**တွင် အကျုံးဝင်ပါသည်။ အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးမှုရှိသော ဇုန်(၃) တွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၃နှစ် ခံစားနိုင်ကြောင်း စိစစ်တွေ့ရှိရပါ သည်။

(ဍ) မန္တလေးတိုင်းဒေသကြီးအတွင်း မော်တော်ဆိုင်ကယ် နှင့် သုံးဘီးဆိုင်ကယ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်း(၃)ခု ၊ မန္တလေးတိုင်း ဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(၁)ခု၊ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု(၂)ခု ထုတ်ပေး ထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ Yadanar Theingi Co., Ltd. (ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်)မှ သုံးဘီး မော်တော်ဆိုင်ကယ် နှင့် မော်တော်ဆိုင်ကယ် အမျိုးမျိုး တပ်ဆင် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(နွယ်နီဦး၊အတွင်းရေးမှူး)